**ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် M Hospitality Management Company Limited မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန် ကြာချိန်**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃-၆-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၃-၆-၂၀၁၆ | ၁၂-၉-၂၀၁၆ | (၉၁)ရက် |
| | (ခ) သယံဇာတ နှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၁၅-၆-၂၀၁၆ | ၂၉-၆-၂၀၁၆ | (၁၄)ရက် |
| | (ဂ) ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန | ၁၄-၆-၂၀၁၆ | ၁-၇-၂၀၁၆ | (၁၇)ရက် |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၃-၆-၂၀၁၆ | - | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂၂/၂၀၁၆)သို့ တင်ပြခြင်း | ၁၃-၆-၂၀၁၆ | | |
| ၄ | အဆိုပြုချက် လက်ခံကြောင်း ပြန်ကြားခြင်းနှင့် အဆိုပြုချက် စိစစ်ရေးအဖွဲ့အစည်းအဝေး (၂၂/၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီ တင်ပြရန် အကြောင်းကြားခြင်း | ၁၅-၆-၂၀၁၆<br>၂၀-၆-၂၀၁၆ | | |
| ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ အဆိုပြုလွှာအား (၆-၇-၂၀၁၆) ရက်နေ့တွင် ပြန်လည်ပေးပို့ခဲ့ပါသည်။ | | | | |
| ၅ | ကုမ္ပဏီမှ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြန်လည် ပြင်ဆင်တင်ပြလာခြင်း | ၆-၉-၂၀၁၆ | - | |
| ၅ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန | ၁၅-၉-၂၀၁၆ | ၂၃-၉-၂၀၁၆ | (၈)ရက် |
| | (ခ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၂၇-၉-၂၀၁၆ | ၁၂-၁၀-၂၀၁၆ | (၁၅)ရက် |
| ၇ | ကုမ္ပဏီမှ သဘောထား မှတ်ချက်များနှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၂၇-၉-၂၀၁၆ | | |
| ၈ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | ၁-၁၁-၂၀၁၆ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့်နေ့ရက် | ၂၀/၂၀၁၆<br>၁၁-၁၁-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | ( ၄၆ ) ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | M Hospitality Management Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | လီမိတက်ကုမ္ပဏီ<br>(Private Company ဖြစ်ပါသည်) |
| လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကမ္ဘောဇလမ်း၊ မြေတိုင်းရပ်ကွက် အမှတ် (၃၆-J)၊ မြေကွက် အမှတ် (၁၁၃-H/၃)ရှိ မြေဧရိယာ ၀.၅၇၆ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၂.၅၀ သန်း |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၂၀ နှစ် |
| အရင်းကြေကာလ | - | ၆ နှစ် ၁၀ လ |
| IRR | - | ၁၅.၁၇ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင် ကြေး | | ကျပ် ၀.၆၇ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၂၆၄.၇၁ သန်း |
| ၄ | သွင်းကုန်အခွန် ကင်းလွတ်ခွင့် | ကျပ် ၂၆.၆၁ သန်း | |
| ၅ | ဝင်ငွေခွန် | ကျပ် ၄၃၇.၀၁ သန်း | ကျပ် ၄၈၈.၁၇ သန်း |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၃.၁၁ သန်း |
| ၇ | CSR (၂ %) | | ကျပ် ၃၄.၉၆ သန်း |
| ၈ | လျှပ်စစ်ဓါတ်အား သုံးစွဲခ | | ကျပ် ၁၁၁.၄၅ သန်း |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း - (၇၂)ဦး<br>ပြည်ပ - မရှိပါ။ |
| | | ပြည်တွင်း လုပ်သား(၇၂)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ | |
| | | **ကျပ် ၄၆၅.၇၈ သန်း** | **ကျပ် ၉၀၃.၀၈ သန်း** |
| | Cost : Benefit | ၁ : ၂ | |

## ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၃)

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ် /နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | အလံအမှတ် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | M Hospitality Management Company Limited | ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း | ၂၂/၂၀၁၆<br>၁၃-၆-၂၀၁၆ | - လက်ရှိ အဆောက်အဦ နှင့် ထပ်မံတိုးချဲ့မည့် အဆောက်အဦတို့၏ Layout Plan တင်ပြရန်<br>- ပြည်ပမှ ဝယ်ယူမည့် ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများအား ပြန်လည်စိစစ်၍ အမျိုးအစား အလိုက် အုပ်စု ခွဲခြား တင်ပြရန်<br>- Car Parking ထား ရှိမည့် အစီအစဉ် တင်ပြရန် | ပြင်ဆင်ပြီး | (က)<br>(ခ)<br>(ဂ) |

## ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် M Hospitality Management Company Limited မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

၁ ကုမ္ပဏီအမည်/ကမကထပြုသူ - M Hospitality Management Company Limited

ဦးမြင့်သန်းတိုးဦး

အဖွဲ့အစည်းပုံသဏ္ဌာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

| | | | |
|---|---|---|---|
| ဦးမြင့်သန်းတိုးဦး | - | 20% | (မြန်မာ) |
| Mr. Ng San Guan | - | 25% | (စင်ကာပူ) |
| Mr. Ng Sun Ho | - | 35% | (စင်ကာပူ) |
| Mr. Ng San Wee | - | 20% | (စင်ကာပူ) |

လုပ်ငန်းအမျိုးအစား - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

၂ တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ် (၃၆-၂)၊ မြေကွက် အမှတ်(၁၁၃-H/၃)

မြေအကျယ်အဝန်း - မြေဧရိယာ ၀.၅၇၆ ဧက (၂,၃၃၀.၉၉ စတုရန်းမီတာ)

မြေပိုင်ရှင် - ဒေါ်အမာနီ

၃ နှစ်စဉ် မြေနှင့်အဆောက်အဦငှားရမ်းခ - ကျပ် ၁၂၀.၀၀ သန်း (တစ်စတုရန်းမီတာလျှင် ကျပ် ၅၁,၅၀၀ နှုန်း)

၄ လုပ်ငန်းသက်တမ်း - ၂၀ နှစ်

၅ တည်ဆောက်ရေးကာလ - ၁၈ လ

၆ စုစုပေါင်းမတည်ငွေရင်း - **အမေရိကန်ဒေါ်လာ ၂,၅၀၀,၀၀၀**

| | | နိုင်ငံခြား(US$) | နိုင်ငံသား(US$) | စုစုပေါင်း(US$) |
|---|---|---|---|---|
| Cash | - | ၂၉၆,၀၄၉ | ၁၂၅,၀၀၀ | ၄၂၁,၀၄၉ |
| Machinery and Equipment | - | ၁၄၄,၃၄၀ | ၅၀,၁၆၇ | ၁၉၄,၅၀၇ |
| Building | - | ၁,၀၅၄,၄၅၄ | - | ၁,၀၅၄,၄၅၄ |
| Hotel Use | - | ၅၀၅,၁၅၇ | - | ၅၀၅,၁၅၇ |
| Cost of building construction | - | - | ၃၂၄,၈၃၃ | ၃၂၄,၈၃၃ |
| **စုစုပေါင်း(US$)** | - | **၂,၀၀၀,၀၀၀** | **၅၀၀,၀၀၀** | **၂,၅၀၀,၀၀၀** |

၇ ဝန်ဆောင်မှု (၆ နှစ်မြောက်) -

| စဉ် | အမျိုးအစား | အခန်း အရေအတွက် | Occupancy Rate (%) | | ငှားရမ်းခနှုန်း | |
|---|---|---|---|---|---|---|
| | | | Ks | US$ | Ks | US$ |
| (က) | Suite | ၃ | ၁၀ | ၉၀ | ၂၀၀,၀၀၀ | ၂၀၀ |
| (ခ) | Executive | ၁၀ | ၁၅ | ၈၅ | ၁၄၀,၀၀၀ | ၁၄၀ |
| (ဂ) | Deluxe | ၃၃ | ၁၅ | ၈၅ | ၉၀,၀၀၀ | ၉၀ |
| | စုစုပေါင်း | ၄၆ | | | | |

၈ ဝန်ထမ်းအင်အား - ၇၂ ဦး

ပြည်တွင်း - ၇၂ ဦး (တစ်လလျှင် ပြည်တွင်း လုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၄၀၀,၀၀၀ ဖြစ်ပါသည်။)

ပြည်ပ - မရှိပါ။

| | | |
|---|---|---|
| ၉ | ဝင်ငွေ | - US$ ၉၃၈,၃၇၇ |
| | အသုံးစရိတ် | - US$ ၆၉၄,၂၉၅ |
| | အသားတင်အမြတ် | - US$ ၂၄၄,၀၈၂ |
| ၁၀ | နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | ဝင်ငွေခွန် | - US$ ၈၁,၃၆၁ |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၄၆,၉၁၉ |
| | အရင်းကြေကာလ | - ၆ နှစ် ၁၀ လ |
| | အရင်းအနှီးအပေါ်အကျိုး<br>အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၅.၁၇ % |
| ၁၁ | CSR | - နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂%အား ပညာရေးအတွက် ၃၅ %၊ လမ်းအတွက် ၁၅ %၊ ကျန်းမာရေးအတွက် ၂၅ %၊ လူမှုဖူလုံရေးအတွက် ၂၅ % ဖြင့် အသီးသီးသုံးစွဲသွားမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြထားပါသည်။ |
| ၁၂ | နှစ်စဉ်လျှပ်စစ်ဓာတ်အားသုံးစွဲမှု | - ၃၆၂,၄၀၀ units |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၄/န-၀၆၅/၂၀၁၆ (၁၀၀၈)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် M Hospitality Management Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကမ္ဘောဇလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (၃၆-၂)၊မြေကွက် အမှတ် (၁၁၃-H/၃)ရှိ မြေဧရိယာ ၀.၅၇၆ ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံသားဖြစ်သော ဦးမြိုင်သန်းတိုးဦးမှ ၂၀ % နှင့် စင်ကာပူနိုင်ငံသားများဖြစ်သော Mr. Ng San Guan မှ ၂၅ %၊ Mr. Ng Sun Ho မှ ၃၅ %၊ Mr. Ng San Wee မှ ၂၀ % တို့ အသီးသီး ထည့်ဝင်၍ M Hospitality Management Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကမ္ဘောဇလမ်း၊ မြေတိုင်းရပ်ကွက် အမှတ် (၃၆-၂)၊ မြေကွက် အမှတ် (၁၁၃-H/၃)ရှိ မြေဧရိယာ ၀.၅၇၆ ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြိုင်သန်းတိုးဦးမှ အဆိုပြုချက် တင်ပြလာခြင်းအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၂/၂၀၁၆ (၁၃-၆-၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်အမာနီနှင့် M Hospitality Management Co., Ltd. တို့အကြား ချုပ်ဆိုမည့် မြေဧရိယာ ၀.၇၅၆ဧက အတွက် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ မြန်မာနိုင်ငံသားဖြစ်သော ဦးမြိုင်သန်းတိုးဦး၊ စင်ကာပူနိုင်ငံသားများ ဖြစ်သော Mr. Ng San Guan၊ Mr. Ng Sun Ho နှင့် Mr. Ng San Wee တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း) နှင့် မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်မည့်ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း(မူကြမ်း) တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေဧရိယာမှာ ၀.၅၇၆ ဧက (၂,၃၃၀.၉၉ စတုရန်းမီတာ) ကျယ်ဝန်းပြီး မြေနှင့်အဆောက်အဦ ငှားရမ်းသက်တမ်းမှာ ကနဦး နှစ် (၂၀)နှင့် သက်တမ်းတိုး (၅)နှစ် (၂)ကြိမ် ဖြစ်ပါသည်။ နှစ်စဉ် မြေငှားရမ်းခမှာ တစ်စတုရန်းမီတာလျှင် ကျပ် ၅၁,၅၀၀ နှုန်းဖြင့် စုစုပေါင်း မြေဧရိယာ ၀.၅၇၆ ဧကအတွက် ကျပ် ၁၂၀,၀၀၀,၀၀၀ ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းကာလမှာ ကနဦး နှစ်(၂၀)နှင့် သက်တမ်းတိုး (၅) နှစ်(၂)ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ (၁၈)လ ဖြစ်ပြီး ခွင့်ပြုမိန့်ရရှိပြီးပါက ရက်ပေါင်း ၉၀ အတွင်းတွင် စတင်တည်ဆောက်မည် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၂.၅၀ သန်း ဖြစ်ပါသည်။ ဤအဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့် စက်ပစ္စည်းကိရိယာများ တန်ဖိုး အမေရိကန်ဒေါ်လာ ၄၄၃,၂၉၃.၀၀ တန်ဖိုးကို ပြည်ပမှဝယ်ယူမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု ထည့်ဝင်မှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| | နိုင်ငံခြား(US$) | နိုင်ငံသား(US$) | စုစုပေါင်း(US$) |
|---|---|---|---|
| Cash | ၂၉၆,၀၄၉ | ၁၂၅,၀၀၀ | ၄၂၁,၀၄၉ |
| Machinery and Equipment | ၁၄၄,၃၄၀ | ၅၀,၁၆၇ | ၁၉၄,၅၀၇ |
| Building | ၁,၀၅၄,၄၅၄ | - | ၁,၀၅၄,၄၅၄ |
| Hotel Use | ၅၀၅,၁၅၇ | - | ၅၀၅,၁၅၇ |
| Cost of building construction | - | ၃၂၄,၈၃၃ | ၃၂၄,၈၃၃ |
| **စုစုပေါင်း(US$) -** | **၂,၀၀၀,၀၀၀** | **၅၀၀,၀၀၀** | **၂,၅၀၀,၀၀၀** |

***Exchange Rate: 1US$ = 1,200 Kyats**

၆။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အခန်းအရေအတွက် | Occupancy Rate (%) | | ငှားရမ်းခနှုန်း | |
|---|---|---|---|---|---|---|
| | | | Ks | US$ | Ks | US$ |
| (က) | Suite | ၃ | ၁၀ | ၉၀ | ၂၀၀,၀၀၀ | ၂၀၀ |
| (ခ) | Executive | ၁၀ | ၁၅ | ၈၅ | ၁၆၀,၀၀၀ | ၁၆၀ |
| (ဂ) | Deluxe | ၃၃ | ၁၅ | ၈၅ | ၉၀,၀၀၀ | ၉၀ |
| | **စုစုပေါင်း** | ၄၆ | | | | |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

အမေရိကန်ဒေါ်လာ

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၉၃၈,၃၇၇ |
| (ခ) | အသုံးစရိတ် | ၆၉၄,၂၉၅ |
| (ဂ) | အသားတင်အမြတ် | ၂၄၄,၀၈၂ |

၈။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၇၂)ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၄၀၀,၀၀၀ ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင်ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၈၁,၃၆၁ နှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၄၆,၉၁၉ ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၆ နှစ် ၁၀ လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၅.၁၇% ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး** **(နောက်ဆက်တွဲ-က)**

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် M Hospitality Management Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကမ္ဘောဇလမ်း၊ မြေတိုင်းရပ်ကွက် အမှတ် (၃၆-၂)၊မြေကွက် အမှတ် (၁၁၃-H/၃)ရှိ မြေဧရိယာ ၀.၅၇၆ ဧကတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည့်ကိစ္စအား ကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁)အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂)အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP)အား ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်။ **[ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan-EMP) **အစီရင်ခံစာအား ရေးဆွဲတင်ပြ၍ အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၉ ရက် နေ့စွဲပါစာဖြင့် တင်ပြထားပါသည်။]**

(ဂ) **ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

အဆိုပြုတင်ပြချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဆိုပါက သီးခြားကန့်ကွက်ရန် မရှိပါကြောင်းနှင့် ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက ဟိုတယ်တည်ဆောက် ခွင့်ပြုမိန့်နှင့်လုပ်ငန်းလိုင်စင်များကို ဟိုတယ်နှင့်ခရီးသွားလာရေး ဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထားရယူသွားရန် လိုအပ်ပါကြောင်း။

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-ဃ)**

(၁) Tour Busကြီးများ လမ်းမပေါ်တွင် ရပ်နားခြင်း မရှိစေဘဲ ဟိုတယ်ဝန်းအတွင်းသို့ ဝင်ရောက်ရပ်နားနိုင်ရေး စီစဉ်ထားရှိရန်။

(၂)လေးထပ်၏အထက် အပေါ်ဆုံးထပ်တွင် လူနေရန် စီစဉ်ထားခြင်းမရှိသော Open ပွင့်နေသည့် အနေအထားမျိုးတွေ့ရှိရပါကြောင်း၊ ထို့ကြောင့် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၏ ဥပဒေစည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရန်။

(၃) နိုင်ငံခြားမှ တင်သွင်းသော ပစ္စည်းများသည် ဟိုတယ်သုံး ပစ္စည်းများသာဖြစ်ပြီး ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများ မပါဝင်ပါသဖြင့် သက်ဆိုင်ရာ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်ရန်။

၁၁။ ကျပ်ငွေအထောက်အထားအဖြစ် ဦးမြင့်သန်းတိုးဦးအမည်ဖြင့် AYA Bank တွင် ၂၅-၂-၂၀၁၆ ရက်နေ့ဖြင့် လက်ကျန်ငွေ ကျပ် ၁၇၅,၁၄၁,၃၁၆.၄၈ ရှိကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Mr. Ng Sun Ho အမည်ဖြင့် OCBC Bank တွင် ၃၁-၃-၂၀၁၆ ရက်နေ့ရှိ စင်ကာပူဒေါ်လာ ၅၁၁,၉၂၄.၀၆(US$ ၃၆၉,၈၀၃.၇၀)၊ Mr. Ng San Wee အမည်ဖြင့် ၂၉-၂-၂၀၁၆ ရက်နေ့ရှိ စင်ကာပူဒေါ်လာ ၂၁၇,၄၃၆.၄၇ (US$၁၅၇,၀၇၁)နှင့် Mr. Ng San Guan အမည်ဖြင့် DBS Bank တွင် ၃၁-၃-၂၀၁၆ ရက်နေ့ဖြင့် စင်ကာပူဒေါ်လာ ၁၉၃,၀၅၉.၆၉ (US$၁၃၉,၄၆၂.၄၅) ရှိကြောင်း တင်ပြထားပါသည်။

၁၂။ M Hospitality Management Company Limited မှ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားသုံးစွဲမှုအတွက် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အားကိုရရှိပါက သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓါတ်အားမရရှိသည့်အခါတွင် ကိုယ်ပိုင်မီးစက် 315 KVA Transformer (၁) လုံး နှင့် 500 KVA Generator (၁) လုံး တို့ဖြင့် လုပ်ငန်းလည်ပတ်သွားမည် ဖြစ်ပါသည်။

၁၃။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်အစီအစဉ်တို့အား ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ အဆိုပြုလုပ်ငန်းအတွက် CSR အဖြစ် ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % အား ပညာရေးအတွက် ၃၅ %၊ လမ်းအတွက် ၁၅ %၊ ကျန်းမာရေးအတွက် ၂၅ %၊ လူမှုဖူလုံရေးအတွက် ၂၅ % ဖြင့် အသီးသီးသုံးစွဲသွားမည်ဖြစ်ကြောင်း ရှင်းလင်း တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပြည်တွင်း/ပြည်ပ အတတ်ပညာရှင်များ၊ ရုံးဝန်ထမ်းများ၊ ဟိုတယ်အလုပ်သမားများ ခန့်အပ်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်စီမံကိန်းလုပ်ငန်းအား ဆောင်ရွက်သွားမည်ဖြစ်သောကြောင့် အဆိုပါဝန်ထမ်းများ၏ လုပ်ခလစာနှင့်ပတ်သက်၍ လက်ရှိနိုင်ငံတော်မှ ချမှတ်ထားသော ဝင်ငွေခွန်ဥပဒေနှင့်အညီ ဝင်ငွေခွန်များကို ပေးဆောင်သွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြထားပါသည်။

၁၅။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ အထက်ပါ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းတွင် Suite, Executive and Deluxe Rooms ပါ ၄ ထပ် အဆောက်အဦတစ်လုံး၊ Coffee Shop and Fittness Centre ပါ ၂ ထပ် အဆောက်အဦတစ်လုံး၊ Hall(Archway) အဆောက်အဦတစ်လုံးနှင့် Swimming Pool တစ်ခုတို့အား ဆောက်လုပ်သွားမည် ဖြစ်ပါသည်။

(ခ) ကားပါကင်အတွက် ကားအစီးရေ (၁၄) စီးခန့် ဝင်ရောက် ရပ်နားနိုင်မည် ဖြစ်ပြီး ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းသည် စီးပွားရေး လုပ်ငန်းရှင်များ နှင့် ခရီးသွား

ဧည့်သည်များ တည်းခိုရန်ကိုသာ ရည်ရွယ်သဖြင့် ကြာရှည်စွာ ကားရပ်နားခြင်း မရှိဘဲ အကြို/အပို့သာ ရှိနိုင်ခြင်း၊ ကြီးမားသော အစည်းအဝေးခန်းမ၊ ဧည့်ခံခန်းမများ မပါရှိခြင်း၊ ထို့အပြင် ဟိုတယ်မှလည်း ဧည့်သည်များအတွက် Limousine Service အား ထောက်ပံ့ပေးထားပါသဖြင့် ကားပါကင်မှာ လုံလောက်ပါကြောင်းနှင့် ဧည့်ကြိုကားကြီးများ (Tour Bus )အနေဖြင့်လည်း ခြံစည်းရိုးဝန်းအတွင်း ဝင်ရောက်၍ ခရီးသွားဧည့်သည်များအား အတင်အချ ပြုလုပ်နိုင်ပါသဖြင့် ပြည်သူပိုင်လမ်းအား အနှောင့်အယှက်ဖြစ်ခြင်း၊ လမ်းပိတ်ခြင်းများအား ကာကွယ်နိုင်ရန် ရည်ရွယ်၍ ပြုလုပ်ထားပါကြောင်း တင်ပြထားပါသည်ကို တွေ့ရှိရပါသည်။

(ဂ) လုပ်ငန်းဆောင်ရွက်မည့်မြေမှာ မြေပိုင်မြေဖြစ်ပြီး ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီမှထုတ်ပြန်သော မိတ္တူမြေပုံ/မြေရာဇဝင်တွင် ဦးတင်ဝင်းအမည်ပေါက် ရရှိထားပြီးဖြစ်သည့်အပြင် ဒေါ်အမာနီအား အမည်ပေါက် လွှဲပြောင်းခြင်းမှတ်တမ်း စာရွက်စာတမ်း အထောက်အထားများအား တင်ပြထားပါသည်။

(ဃ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဥ် (၁၀/၂၀၁၆) (၁၉-၈-၂၀၁၆)မှ ခွင့်ပြုချက် ရရှိပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် M Hospitality Management Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကမ္ဘာ့ဇလမ်း၊ မြေတိုင်းရပ်ကွက် အမှတ် (၃၆-J)၊ မြေကွက် အမှတ် (၁၁၃-H/၃)ရှိ မြေဧရိယာ ၀.၅၇၆ ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

၆

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|
| M Hospitality Management Company Limited | (1)U Myaing Than Toe Oo<br>Myanmar<br>12/MaGaTa(Naing)046277 | No. 135, TheinPhyu Road, MingalarTaungyuntTownship, Yangon Region, Myanmar. |
| | (2)Mr. Ng San Guan<br>Singaporean<br>E 5589517 N | 4, Ettrick Terrace, Singapore458568. |
| | (3)Mr. Ng Sun Ho<br>Singaporean<br>E 3059589 L | 12, Siglap Plain, Singapore456001. |
| | (4)Mr. Ng San Wee<br>Singaporean<br>E 2641311 E | 10, Binchang Rise, Singapore 579881. |

| | | |
|---|---|---|
| ၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | |
| ၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ | - | |
| ၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး | - | ဦးမြိုင်သန်းတိုးဦး |
| ၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်မည့်လုပ်ငန်းများ | - | ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ | - | |
| ၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ | - | |
| ၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် | - | |

နောက်ဆက်တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာ လ ၁၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃. ၆. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၄/န-၀၆၅/၂၀၁၆(၇၀၂-က)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် M Hospitality Management Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၃၆.J)၊ မြေကွက်အမှတ်(၁၁၃.H/၃)ရှိ မြေဧရိယာ ၀. ၅၇၆ ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(မြင့်သောင်း၊ တိုင်းဒေသကြီးစီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဗဟန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
M Hospitality Management Co., Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Lesson(MIC)..(66)

၁၁၆ ၇၂
၃၀/၆/၁၆

နောက်ဆက်တွဲ (ခ)

ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဂဂ၁/ MIC(OSS) /၀၁( ၁၈၅ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် ဇွန် လ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **M Hospitality Management Co.,Ltd မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၆-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၄/ န-ဂ၆၅/ ၂၀၁၆(၇၀၈)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် M Hospitality Management Co.,Ltd တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၃၆.J)၊ မြေကွက်အမှတ်(၁၃၃.H/၃)ရှိ မြေဧရိယာ ဂ.၅၇၆ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး(၂၀)နှစ်နှင့်(၅)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁၈)လဖြစ်ကြောင်း၊ ဟိုတယ်တွင် Executive Room (၁၃)ခန်းနှင့် Deluxe Room (၃၆)ခန်း စုစုပေါင်း (၄၉)ခန်းပါဝင်ကြောင်း၊ လုပ်သားများသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ စီမံကိန်းဧရိယာအတွင်းပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှုမရှိစေရန် ကာကွယ်သွားမည်ဖြစ်ပြီး သစ်ပင်ပန်းမန်များကို စိမ်းလန်းစိုပြေအောင်စိုက်ပျိုးသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ M Hospitality Management Co.,Ltd မှ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများကြောင့် မြေထုနှင့်လေထုညစ်ညမ်းခြင်း၊ တည်ဆောက်ရေးအလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အမှိုက်များနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ ဟိုတယ်လုပ်ငန်းများဆောင်ရွက်ချိန်တွင်မီးဖိုချောင်နှင့်စားသောက်ခန်းများမှ ထွက်ရှိလာမည့်စားကြွင်းစာကျန်များ၊ အမှိုက်များ၊ စွန့်ပစ်ရေဆိုးများကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ M Hospitality Management Co.,Ltd မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိုစွန့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အားအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan– EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

To

Chairman

Myanmar Investment Commission

No. (1), Thit Sar Road, Yankin Township, Yangon.

The Republic of the Union of Myanmar.

Dated: 19th, October, 2016

**Subject : Undertaking**

We, **M Hospitality Management Co., Ltd.** have a great pleasure to inform you that, **M Hospitality Management Co., Ltd.** has been incorporated **under** the Foreign Investment Law (2012) in accordance with the Myanmar Company Act (1914). We would like to apply MIC permit for **M Hospitality Management Co., Ltd.** which is located at Plot No. (113H/3), Block No. (36.J), Bahan Township, Yangon Region, The Republic of the Union of Myanmar.

We will build 4 stars hotel in accordance with the International Standard at (0.576) acre of the plot, Plot No. (113 H/3), Block No. (36.J), Bahan Township, Yangon Region, Myanmar with lease initial (20) years and extendable and renewable for 2 times of another (5) years approved by Myanmar Investment Commission.

In relating with this proposal business, It is committed that we, **M Hospitality Management Co., Ltd.** will hire a qualified consultant firm accredited by the Environmental Conservation Department, Ministry of Natural Resources and Environmental Conservation to prepare a comprehensive environmental management plans and also promised to follow according to the instructions of the plans concerning with the environmental conservation.

With Best Regards,

19/10/2016

U Myaing Than Toe Oo

The Promoter

M Hospitality Management Co., Ltd.

ဒ၅ 25 / 26/9/16

M3-1030 / ၉3/9

နောက်ဆက်တွဲ (ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၈ -ဂ (အုပ်ချုပ်မှု) /နပတ/ ၂၄၂၅
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာ လ ၂၃ ရက်။

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄-၆-၂၀၁၆) ရက်စွဲပါစာ အမှတ်၊ မရက - ၄/န-၀၆၅/၂၀၁၆ (၇၀၄)

(၂) ဤဝန်ကြီးဌာန၏ (၁-၇-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု) /နပတ / (၁၇၀၆)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅-၉-၂၀၁၆) ရက်စွဲပါစာ အမှတ်၊ မရက - ၄/န-၀၆၅/၂၀၁၆ (၈၉၅)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် M Hospitality Management Co.,Ltd တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၃၆.J) ၊ မြေကွက်အမှတ် (၁၁၃.H/၃) ရှိ မြေဧရိယာ (၀.၅၇၆) ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူ ဦးမြိုင်သန်းတိုးဦးမှ အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှရည်ညွှန်း(၁)ပါစာဖြင့် အကြောင်းကြားချက်အရ ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းပြန် ကြားပြီးဖြစ်ပါသည်။

၂။ ယခုအခါမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ M Hospitality Management Co., Ltd သည်ကော်မရှင် ခွင့်ပြုမိန့်အမှတ် (၆၈၅/၂၀၁၄) ဖြင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်လျက်ရှိသည့် Hotel "M" Management Co., Ltd ၏ ကုမ္ပဏီခွဲ(၁)ခုဖြစ်ကြောင်း၊ လက်ရှိဟိုတယ်လုပ်ငန်း ဆောင်ရွက်လျက်ရှိသော Hotel "M"မှာ အောင်မြင်သဖြင့် ဒုတိယခြေလှမ်းအဖြစ် နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန် တင်ပြခြင်းဖြစ်ကြောင်း၊ အစည်းအဝေးခန်းမနှင့် ဧည့်ခံ ခန်းမများမပါရှိသဖြင့်ပုံစံအသစ်ဖြင့်တင်ပြသောကားပါကင်မှာလုံလောက်မှုရှိကြောင်းပြင်ဆင်တင်ပြ လာပါသဖြင့်အဆိုပြုချက်အားလက်ခံရန်သင့်/မသင့်အပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန်မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၃)ပါစာဖြင့် ထပ်မံညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၃။ ရည်ညွှန်း(၂) ပါစာတွင် ကုမ္ပဏီ၏တင်ပြချက်၌ မြေနေရာအကျယ်အဝန်း(၀.၅၇၆) ဧကသာရှိပြီး Executive Room နှင့် Deluxe Room အမျိုးအစား(၂)မျိုးသာ တည်ဆောက်မည် ဖြစ်ခြင်း၊ ယာဉ်ရပ်နားရန်နေရာများနှင့် အခြားလိုအပ်ချက်များ၊ Layout Plan များပြည့်စုံစွာ ထည့်သွင်း၍ကောင်းမွန်သည့် (Concrete Proposal) ဖြင့် တင်ပြမှုမရှိခဲ့ခြင်း၊ အဓိကကျသည့် ဒေသအာဏာပိုင် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်မပါရှိခြင်းတို့ကြောင့် ခွင့်မပြုသင့်ကြောင်း ပြန်ကြားခဲ့ပါသည်။

၄။ ရည်ညွှန်း(၃)ပါစာဖြင့် ပူးတွဲတင်ပြခဲ့သည့် ကုမ္ပဏီ၏ အသနားခံတင်ပြချက်အား စိစစ် ကြည့်ရာတွင် အောက်ပါ အတိုင်းတွေ့ရှိရပါသည်-

(က) ယခုအဆိုပြုတင်ပြသည့် M Hospitality Management Co., Ltd သည်ဟိုတယ် လုပ်ငန်း ဆောင်ရွက်လျက်ရှိသည့် Hotel "M" Management Co., Ltd ၏ ကုမ္ပဏီခွဲ (၁)ခု ဖြစ်ခြင်း၊

(ခ) Hotel"M" Management Co.,Ltd မှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်အမှတ်(၆၈၅/၂၀၁၄)ဖြင့်အမှတ်(၂၉)၊ကမ္ဘာ့ဧရိပ်သာလမ်း၊ ရွှေတောင်ကြား (၁)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ (၀.၂၂၂) ဧကပေါ်တွင် Hotel "M"အမည်ဖြင့် အခန်း (၃၈)ခန်းပါ ဟိုတယ်အား ဤဝန်ကြီးဌာန၏ ခွင့်ပြုလိုင်စင်

အမှတ်( ဟ-၀၉၄၄ ) ဖြင့် ဟိုတယ်လုပ်ငန်းများကို (၂၁-၁၁-၂၀၁၄) ရက်နေ့မှ စတင်၍ ဖွင့်လှစ်လုပ်ကိုင်ခဲ့ရာ (၂၀၁၅-၂၀၁၆)ဘဏ္ဍာနှစ်တွင် ကုလသမဂ္ဂနှင့်သံရုံးဧည့်သည်များအပါအဝင် စုစုပေါင်း(၆၀၇၅) ဦး တည်းခိုခဲ့သည်ကို တွေ့ရှိရခြင်း၊

(ဂ) ယခုM Hospitality Management Co.,Ltdမှ ပြင်ဆင်တင်ပြလာသည့် အဆိုပြုလွှာတွင်ရန်ကုန်တိုင်းဒေသကြီး၊ဗဟန်းမြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ် (၃၆.J)၊ မြေကွက်အမှတ် (၁၁၃.H/၃)ရှိမြေဧရိယာ(၀.၅၇၆)ဧကတွင်Suite Room (၃)ခန်း၊ Executive Room (၁၀) ခန်းနှင့် Deluxe Room(၃၃)ခန်း၊ စုစုပေါင်း (၄၆) ခန်း ဆောက်လုပ်မည် ဖြစ်ကြောင်းတင်ပြထားခြင်း၊

(ဃ) ယာဉ်ကြီး(၁)စီးနှင့်ယာဉ်ငယ်(၁၁)စီးယာဉ်ရပ်နားရန်နေရာ၊ရေကူးကန်၊အားကစားခန်းမ၊ အဆင့်မြင့်အနောက်တိုင်းစားသောက်ဆိုင်တို့ပါဝင်သော အဆင့်အတန်းမြင့် Business & Boutique Hotel တစ်ခုဖြစ်ပေါ်လာမည်ဖြစ်ခြင်း၊ ဖွင့်လှစ်ပြီး Hotel "M" နှင့် ယခုဆောက်လုပ်မည့် ဟိုတယ်အသစ်အပါအဝင် နောင်ဖွင့်လှစ်မည့်ဟိုတယ်များမှာ 3 Star Hotel အဆင့်ထက်မနိမ့်သောပြင်ဆင်မှု၊ဝန်ဆောင်မှု၊ ပံ့ပိုးမှုများနှင့်ဖွင့်လှစ်သွားရန်ရည်ရွယ်ထားခြင်း၊

(င) Hotel "M" Management Co., Ltd.အနေဖြင့် ရန်ကုန်မြို့တွင် ဟိုတယ်(၂)ခု၊ မန္တလေး၊ ပုဂံ၊ ကလောစသည့်ခရီးစဉ်ဒေသများတွင် ဟိုတယ်လုပ်ငန်းများကို Chain Hotelအဖြစ်လုပ်ဆောင်၍အဆိုပါဒေသခံ၏စီးပွားရေးနှင့်အလုပ်အကိုင်အခွင့်အလမ်းများပိုမိုတိုးတက်ကောင်းမွန်အောင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားခြင်း၊

(စ) (၃-၈-၂၀၁၆) ရက်နေ့တွင် Hotel "M" Management Co., Ltd မှ Director Mr.NG SUN HO သည်ဝန်ကြီးဌာနအကြီးအကဲများထံ လာရောက်တွေ့ဆုံစဉ်တွင်လည်းအထက်ပါအခြေအနေများကိုဆောင်ရွက်သွားမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြခဲ့ခြင်း၊

(ဆ) ဟိုတယ်လုပ်ငန်း တည်ဆောက်ခွင့်ပြုမိန့်တောင်းခံရာတွင် အဓိကလိုအပ်သည့် သက်ဆိုင်ရာဒေသအာဏာပိုင် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ (၁၂-၉-၂၀၁၆) ရက်စွဲပါစာဖြင့် ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံတင်ပြထားခြင်း၊

၅။ သို့ဖြစ်ပါ၍ကော်မတီမှ အထက်ပါတင်ပြချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဆိုပါက သီးခြားကန့်ကွက်ရန်မရှိကြောင်းနှင့် ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက ဟိုတယ်တည်ဆောက်ခွင့်ပြုမိန့်နှင့်လုပ်ငန်းလိုင်စင်များကို ဤဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထားရယူသွားရန် လိုအပ်ပါကြောင်းကိုလည်း တင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

(ရည်မွန် ၊အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ /မျှော

၁၁၆ $\frac{၅}{၅/၇}$

MS-867 5/7



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈ -ဂ (အုပ်ချုပ်မှု) /နပတ/ ၁၇၀၆

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇူလိုင် လ ၁ ရက်။

NPS-1604 4-7-16

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၄-၆-၂၀၁၆)ရက်စွဲပါစာအမှတ် မရက - ၄/န-၀၆၅/ ၂၀၁၆ (၇၀၄)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်M Hospitality Management Co.,Ltd တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ဗဟန်းမြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်(၃၆.J)၊မြေကွက်အမှတ်(၁၁၃.H/၃) ရှိမြေဧရိယာ (၀.၅၇၆) ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြိုင်သန်းတိုးဦးမှ အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု(၈၀%)ပါဝင်သော ဟိုတယ်(၁)လုံးသည် သာမန်တိုက်ခန်းအကျယ်အဝန်းသာရှိသော(၀.၅၇၆)ဧကတွင်တည်ဆောက်မည်ဖြစ်ရာ ပြည်တွင်းတိုင်းရင်းသားလုပ်ငန်းရှင်များပင်ယင်းထက်မက လုပ်ကိုင်နိုင်သောအခြေအနေတွင် ၎င်းတို့အားခွင့်ပြုသင့်မသင့် ဦးစွာစဉ်းစားသင့်ပါသည်။ နိုင်ငံခြားသားလုပ်ငန်းရှင်များကို အလတ်တန်းစားဟိုတယ်များတွင် ရင်းနှီးလုပ်ကိုင်ခွင့်မပြုရန် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းရှင်များ၏ ဆွေးနွေးတင်ပြမှုလည်းရှိပါသည်။

၃။ ယခုအဆိုပြုတင်ပြလာသည့် မြေဧရိယာ(၀.၅၇၆)ဧကတွင် Executive Room၊ Deluxe Roomအမျိုးအစား(၂) မျိုးဖြင့် အခန်းပေါင်း(၄၉)ခန်းကိုသာ တည်ဆောက်မည်ဖြစ်ပြီး၊ မြေနေရာအကျယ်

အဝန်းအရ လုံလောက်သော ကားပါကင်ထားရှိရန်ခက်ခဲမည်ဖြစ်သဖြင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေအရသော်လည်းကောင်း(သို့မဟုတ်) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုအနေဖြင့် တစ်ပိုင်တစ်နိုင် သော်လည်းကောင်းလုပ်ကိုင်နိုင်ပြီး ဖက်စပ်(သို့မဟုတ်) ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံမှုဖြင့် လုပ်ငန်းဆောင် ရွက်ခြင်းကို ခွင့်မပြုသင့်ပါကြောင်း တင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

( ရည်မွန်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ /မျှော

နောက်ဆက်တွဲ (ဃ)


မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**MYANMAR ENGINEERING SOCIETY**

Hlaing Universities' Campus, Hlaing Township, Yangon, Myanmar

Tel : 95-1-519673 ~ 76, Fax : 95-1-519681

E-mail:mes@mptmail.net.mm, Website: www.mes.org.mm


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ မအသ / MIC / ၀၇၇၀ / ၂၀၁၆။

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ၊ ( ၁၂ ) ရက်။

**အကြောင်းအရာ။** **M Hospitality Management Co., Ltd. ၏ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံထားသည့် ကိစ္စ။**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ (၂၇)ရက် နေ့စွဲပါ စာအမှတ် မရက-၄/န-၀၆၅/ ၂၀၁၆(၉၁၇)။

P. 1299 14.10.16

၁။ အထက်ဖော်ပြပါ အကြောင်းအရာကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ M Hospitality Management Co., Ltd. မှ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ (၂၇) ရက်စွဲဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကမ္ဘာ့ဧလမ်း၊ မြေတိုင်းအမှတ် (၁၁၃. H/၃) ရှိ မြေဧရိယာ ၀.၅၇၆ ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ လိုအပ်ချက်များဖြစ်သော Drawings များကို (၂၈.၉.၂၀၁၆) ရက်နေ့မှစ၍ တောင်းခံခဲ့ရာ (၃၀.၉.၂၀၁၆) ရက်နေ့တွင် ပြည့်စုံစွာ လာရောက်ပေးပို့ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ သေချာစွာ စိစစ်နိုင်ရန် ဖိတ်ကြားချက်အရ M Hospitality Management Co., Ltd. မှ တာဝန်ရှိသူများ ဖြစ်ကြသော ဦးမြင့်သန်းတိုးဦး၊ ဒေါ်ဇီရိန်မိုး နှင့် ဦးထွန်းဇော်ဦး တို့သည် (၁၁.၁၀.၂၀၁၆) ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ လာရောက်၍ စီမံကိန်းနှင့် ပတ်သက်သော အချက်အလက်များကို ရှင်းလင်းတင်ပြခဲ့ပါသည်။

၄။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ အဖွဲ့ဝင်များ ဖြစ်ကြသော ဥက္ကဋ္ဌ ဦးအောင်မြင့်၊ အတွင်းရေးမှူး ဦးကြည်လွင်၊ အဖွဲ့ဝင်များဖြစ်ကြသော ဦးကျော်စန်ဝင်း နှင့် ဦးခင်မောင်မောင်တို့ တက်ရောက်ကြပြီး သိလိုသည်များကို မေးမြန်းဆွေးနွေးကြပါသည်။ ထို့သို့ ရှင်းလင်းမှုများမှ အောက်ပါ အချက်များကို ထည့်သွင်းဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြုအပ်ပါသည်။

(၁) Tour Bus ကြီးများ လမ်းမပေါ်တွင် ရပ်နားခြင်းမရှိစေဘဲ ဟိုတယ်ဝင်းအတွင်းသို့ ဝင်ရောက်ရပ်နားနိုင်ရေး စီစဉ်ထားရှိရန်။

(၂) လေးထပ်၏အထက် အပေါ်ဆုံးထပ်တွင် လူနေရန် စီစဉ်ထားခြင်းမရှိသော Open ပွင့်နေသည့် အနေအထားမျိုး တွေ့ရှိရပါသည်။ ထို့ကြောင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ ဥပဒေစည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရန်။

(၃) နိုင်ငံခြားမှ တင်သွင်းသော ပစ္စည်းများသည် ဟိုတယ်သုံးပစ္စည်းများသာ ဖြစ်ပြီး ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများ မပါဝင်ပါသဖြင့် သက်ဆိုင်ရာ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ ဆောင်ရွက်ရန်။

၅။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်မြို့တွင် တည်ဆောက်မည့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန် နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ်တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်မြင့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**မိတ္တူကို** – Managing Director, M Hospitality Management Co., Ltd.

– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

– အတွင်းရေးမှူး၊ MIC Projects Assessment Committee

– ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

# PROPOSAL OF THE INVESTOR

# FOR MAKING FOREIGN INVESTMENT

# IN THE REPUBLIC OF THE UNION OF MYANMAR

# A PROPOSAL OF THE HOTEL BUSINESS

PLOT NO. 113 H/3, BLOCK NO. (36J)

BAHAN TOWNSHIP, YANGON REGION

MYANMAR

M HOSPITALITY MANAGEMENT CO., LTD.

---

PROPOSED 4-STOREYED HOTEL PROJECT

[illegible]



LEO ARCHITECT AND DESIGN

To

Chairman

Myanmar Investment Commission

No. (1), Thit Sar Road, Yankin Tsp., Yangon.

The Republic of the Union of Myanmar

Dated: 3rd November, 2016.

**Subject ;** **Submission of the proposal to Myanmar Investment Commission.**

We, **M – Hospitality Management Co., Ltd.** have a great pleasure to inform you that, **M – Hospitality Management Co., Ltd.** has been incorporated under **the Foreign Investment Law ( 2012 )** in accordance with **the Myanmar Company Act ( 1914 ).** We would like to apply MIC permit for, **M – Hospitality Management Co., Ltd.** which is located at Plot No. (113H/3), Block No. (36.J), Bahan Township, Yangon Region, the Republic of the Union of Myanmar.

We will build 4 stars hotel in accordance with the International Standard at (0.576) acre of the plot, Plot No. (113H/3), Block No. (36.J), Bahan Township, Yangon Region, Myanmar with lease initial (20) years and extendable and renewable for 2 times of another (5) years approved by Myanmar Investment Commission.

The above proposal presented at the (22/2016 )meeting held on (13.06.2016) which has been prepared as the guidance from this meeting would like to be submitted. We deeply appreciate the assistance and co – operation your good office has extended to us, and we look forward to your favorable reply.

Thank you,

With best regards,

**U Myaing Than Toe Oo**

**The Promoter**

**M - Hospitality Management Co., Ltd.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေ့စွဲ ။ / / ၂၀၁၆

စာအမှတ်၊ MHM-၃၊ မဂကာ-၁၊ ၂၀၁၆

အကြောင်းအရာ ။ MIC **ခွင့်ပြုချက်ဖြင့်ဆောက်လုပ်မည့် Hotel ရှင်းလင်းတင်ပြခြင်း။**

ရည်ညွှန်းချက်။
(၁) M Hospitality Management Co., Ltd. ၏ (၃.၆.၂၀၁၆) ရက်စွဲပါ တင်ပြစာ
(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၆-၇-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ မရကာ-၄/န-၀၆၅/၂၀၁၆ (၇၅၃)
(၃) HOTEL M ၏ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့် အမှတ် ၆၈၅/၂၀၁၄
(၄) HOTEL "M" MANAGEMENT COMPANY LIMITED သင်းဖွဲ့မှတ်တမ်း
(၅) M Hospitality Management Company Limited သင်းဖွဲ့မှတ်တမ်း

၁။ ကျွန်တော်များ M Hospitality Management Co., Ltd. အနေနှင့် စင်ကာပူနိုင်ငံသား (၃)ဦးနှင့် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၃၆.၂)၊ မြေကွက်အမှတ်(၁၁၃.H/၃)ရှိ မြေဧရိယာ ၀.၅၇၆ဧက (မျက်နှာစာပေ ၁၆၅ ခန့် x အနံပေ ၁၅၀ ခန့်) တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်း(၁)ပါစာဖြင့်အဆိုပြုတင်ပြခဲ့ပါသည်။

၂။ ၂၀၁၆ ခုနှစ် ဇူလိုင်လ ၆ရက်နေ့တွင်မှ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ အဆိုပြုချက်အား ပြန်လည်လွှဲပြောင်းပေးပို့ပါကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၃။ ရှင်းလင်းတင်ပြလိုသည်မှာ၊ ကျွန်တော်များ M Hospitality Management Co., Ltd. သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် ၆၈၅/၂၀၁၄ ဖြင့်ဟိုတယ်လုပ်ငန်း ရင်းနှီးမြှုပ်နှံလုပ်ကိုင်

ရန်ဖွဲ့စည်းတည်ထောင်ထားသော HOTEL "M" MANAGEMENT COMPANY LIMITED ၏ ကုမ္ပဏီခွဲ (၁)ခုသာဖြစ်ပါသည်။ (ရည်ညွှန်း(၃))

၄။ M Hospitality Management Co., Ltd. သည် HOTEL "M" MANGEMENT COMPANY LIMITED ၏ကုမ္ပဏီခွဲဖြစ်ပြီး အစုထည့်ဝင်သူများမှာအတူတူပင်ဖြစ်ပါသည်။ (ရည်ညွှန်း (၄) နှင့် (၅))

၅။ HOTEL "M" MANAGEMENT COMPANY LIMITED သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်အမှတ် ၆၈၅/၂၀၁၄ ဖြင့် Hotel M အမည်ဖြင့် ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၂၇ ရက်နေ့တွင် အကြိုဖွင့်လှစ်ခဲ့၍ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၁ ရက်နေ့မှ စတင်ဖွင့်လှစ်ခဲ့ပါသည်။

၆။ HOTEL "M" MANAGEMENT COMPANY LIMITED သည် မြန်မာနိုင်ငံရင်းနှီးမှုကော်မရှင်သို့ ပထမအကြိမ်ဟိုတယ်လုပ်ငန်းခွင့်ပြုမိန့်တောင်းခံစဥ်ကပင်ရှေ့လုပ်ငန်းစဉ်အဖြစ် ရန်ကုန်၊ မန္တလေး၊ ပုဂံ၊ ကလော စသည့်မြို့များတွင် ဟိုတယ်လုပ်ငန်းများကို Chain Hotel အဖြစ်လုပ်ဆောင်၍အဆိုပါ ဒေသများ၏စီးပွားရေးနှင့် ဒေသခံများ၏အလုပ်အကိုင်အခွင့်အလမ်းများပိုမိုတိုးတက်ကောင်းမွန်အောင် ဆောင်ရွက်သွားမည်ဖြစ်ပြီး ခန့်အပ်ပြီးသောဝန်ထမ်းများ၏ စဉ်ဆက်မပြတ်တိုးတက်မှုများအတွက် Singapore နိုင်ငံမှ ကျွမ်းကျင်သင်တန်းပို့ချသူများအားဖိတ်ခေါ်၍ လုပ်ငန်းခွင်အရည်အသွေးများ မြှင့်တင်သွားရန်ရှိကြောင်းကိုလည်း ရှင်းလင်းတင်ပြခဲ့ပါသည်။

၇။ လက်ရှိလည်ပတ်နေသော HOTEL M ၏ အောင်မြင်မှုများအားလည်း တွဲလျက်ပါဇယား၊ ဓါတ်ပုံများနှင့်တကွတင်ပြအပ်ပါသည်။

၈။ ဒုတိယခြေလှမ်းအဖြစ် ဖွင့်လှစ်မည့်နေရာမှာ ရန်ကုန်မြို့၏အကောင်းဆုံးနေရာတစ်ခုဖြစ်သော ရွှေတောင်ကြားရပ်ကွက်အတွင်း မြေဧရိယာ (၀.၅၇)ဧက (မျက်နှာစာပေ ၁၆၅ ခန့် x အနံပေ ၁၅၀ ခန့်) ရှိသောမြေပေါ်တွင် လုံလောက်သော ကားရပ်နားရန်နေရာ၊ ရေကူးကန်၊ အားကစားခန်းမ၊ အဆင့်မြင့် အနောက်တိုင်းစားသောက်ဆိုင် တို့ပါဝင်သော အဆင့်အတန်းမြင့် Business & Boutique Hotel တစ်ခုအဖြစ်ပေါ်ထွန်းလာမည်ဖြစ်ကြောင်း လေးစားစွာတင်ပြအပ်ပါသည်။

၉။ ဖွင့်လှစ်ပြီး HOTEL M နှင့် ဖွင့်လှစ်မည့်ဟိုတယ်အသစ်တို့မှာ 3 Star Hotel အဆင့်ထက်မနိမ့်သော ပြင်ဆင်မှု၊ ဝန်ဆောင်မှု၊ ပံ့ပိုးမှုများနှင့် ဖွင့်လှစ်သွားရန်ရည်ရွယ်၍ နောင်ဖွင့်လှစ်မည့်ဟိုတယ်များမှာ လည်း 3 Star နှင့် 4 Star Hotel အဆင့်များကိုသာ ဖွင့်လှစ်ရန်ရည်ရွယ်ထားပြီး လိုအပ်သောရင်းနှီးမြှုပ်

နံမှုပမာဏနှင့် နိုင်ငံခြားမှနည်းပညာအထောက်အပံ့များ ရရှိစေရန်ရည်ရွယ်ချက်ဖြင့် ဖက်စပ်လုပ်ငန်း တည်ထောင်၍ လုပ်ကိုင်ရခြင်းဖြစ်ကြောင်းကိုလည်း ထပ်လောင်းတင်ပြအပ်ပါသည်။

၁၀။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်နှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့သော ရည်ညွှန်းချက် (၁) ပါတင်ပြစာမှာ Hotel "M" အုပ်စု၏တင်ပြခဲ့သော ရှေ့လုပ်ငန်းစဉ်များထဲမှ ဒုတိယခြေလှမ်းအဖြစ် ကုမ္ပဏီခွဲ M Hospitality Management Co., Ltd. အား ထပ်မံဖွဲ့စည်း၍ ရန်ကုန်မြို့တွင် အခန်း(၄၉) ခန်းပါရှိသော ဟိုတယ်လုပ်ငန်းအား မတည်ငွေရင်းပမာဏ အမေရိကန်ဒေါ်လာ၂.၅သန်းဖြင့် ဟိုတယ် လုပ်ငန်း လုပ်ကိုင်ရန် ခွင့်ပြုမိန့်တောင်းခံခဲ့ခြင်းဖြစ်ပါသည်။

၁၁။ လာမည့်ကာလ (၈)နှစ်အတွင်းတွင်လည်း Chain Hotel အနေဖြင့်ခရီးစဉ်ဒေသကြီးများတွင်ဆက် လက်လုပ်ကိုင်သွားမည့် လုပ်ငန်းစဉ်များအားလည်း Business Plan နှင့် တွဲလျက်ပါအတိုင်းဆက်လက် လုပ်ကိုင်သွားရန်ရှိပါသဖြင့် ကျွန်တော်များ Hotel M အုပ်စု၏ ဒုတိယခြေလှမ်းအဖြစ် လုပ်ကိုင်နိုင်ရန် ပြန်လည်သုံးသပ်စဉ်းစားခွင့်ပြုပေးပါရန် အသနားခံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

မြင့်သန်းတိုးဦး

မိတ္တူကို
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
ဖက်(စ်) ၀၁-၆၅၈၃၄၃
ဖုန်း ၀၁-၆၅၈၁၂၉

စာအမှတ်၊ မရက- ၄/န-၀၆၅/၂၀၁၆( ၇၅၃ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇူလိုင် လ ၆ ရက်

အကြောင်းအရာ။ **ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ အဆိုပြုချက်အား ပြန်လည်လွှဲပြောင်းပေးပို့ပါကြောင်း အကြောင်းကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။
(၁) M Hospitality Management Co., Ltd. ၏ (၃-၆-၂၀၁၆) ရက်စွဲပါ တင်ပြစာ
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄-၆-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ မရက-၄/န-၀၆၅/၂၀၁၆ (၇၀၄)
(၃) ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ (၁-၇-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)/နပတ/၁၇၀၆

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် M Hospitality Management Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကမ္ဘောဇလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (၃၆.၂)၊ မြေကွက်အမှတ် (၁၁၃.H/၃)ရှိ မြေဧရိယာ ၀.၅၇၆ ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြင့်သန်းတိုးဦးမှ ရည်ညွှန်း (၁)ပါ စာဖြင့် အဆိုပြုချက် တင်ပြလာခြင်းကို ရည်ညွှန်း (၂)ပါ စာဖြင့် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ပါသည်။

၂။ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ "ယခုအဆိုပြုတင်ပြလာသည့် မြေဧရိယာ (၀.၅၇၆)ဧကတွင် Executive Room၊ Deluxe Room အမျိုးအစား(၂)မျိုးဖြင့် အခန်းပေါင်း (၄၉)ခန်းကိုသာ တည်ဆောက်မည်ဖြစ်ပြီး မြေနေရာအကျယ်အဝန်းအရ လုံလောက်သော ကားပါကင်ထားရှိရန် ခက်ခဲမည်ဖြစ်သဖြင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရသော်လည်းကောင်း (သို့မဟုတ်) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုအနေဖြင့် တစ်ပိုင်တစ်နိုင်သော်လည်းကောင်း လုပ်ကိုင်နိုင်ပြီး ဖက်စပ် (သို့မဟုတ်) ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံမှုဖြင့် လုပ်ငန်းဆောင်ရွက်ခြင်းကို ခွင့်မပြုသင့်ပါကြောင်း" ရည်ညွှန်း (၃)ပါ စာဖြင့် သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ M Hospitality Management Company Limited၏ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အဆိုပြုချက်အား လက်ခံဆောင်ရွက်နိုင်ခြင်း မရှိပါကြောင်းနှင့် အဆိုပြုချက်အား ပြန်လည်လွှဲပြောင်း ပေးပို့ပါကြောင်း အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

M Hospitality Management Company Limited
မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

အဖွဲ့ခေါင်းဆောင်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ခွင့်ပြုမိန့်



ခွင့်ပြုမိန့်အမှတ် ၆၈၅ / ၂၀၁၄ ၂၀၁၄ ခုနှစ်၊ မတ်လ ၁၃ ရက်

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ ပုဒ်မခွဲ(ခ) အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည်-

(က) ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူအမည် MR. NG SUN HO

(ခ) နိုင်ငံသား SINGAPORE

(ဂ) နေရပ်လိပ်စာ 12, SIGLAP PLAIN, SINGAPORE 456001

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ -

(င) ဖွဲ့စည်းရာအရပ် -

(စ) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ဟိုတယ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) အမှတ် ၂၉၊ ကမ္ဘာ့ဇရိပ်သာလမ်း၊ ရွှေတောင်ကြား(၁) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) နိုင်ငံခြားမတည်ငွေရင်းပမာဏ အမေရိကန်ဒေါ်လာ ၁.၅၇၅ သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီး (၁) နှစ် အတွင်း

(ည) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၂.၁ သန်း နှင့် ညီမျှသော မြန်မာကျပ်ငွေ (နိုင်ငံခြားငွေအမေရိကန်ဒေါ်လာ ၁.၅၇၅ သန်း အပါအဝင်)

(ဋ) တည်ဆောက်မှုကာလ ၁ နှစ်

(ဌ) ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း ၁၅ နှစ်

(ဍ) ရင်းနှီးမြှုပ်နှံမှုပုံစံ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(ဎ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည် HOTEL "M" MANAGEMENT COMPANY LIMITED

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

